ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၃၂၁ /၂၀၁၃(        )
ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ဩဂုတ် လ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ Denko Petrochemical Management Co., Ltd. မှ ပို့ဆောင်ရေး ဝန်ကြီးဌာန၊ သန်လျင်-ကျောက်တန်း နယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မြေအား B.O.T စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ၊ အင်ဂျင်ဝိုင်များ တင် / ချ ဆိပ်ခံ တံတား တည်ဆောက်ပြီး စက်သုံးဆီ၊ အင်ဂျင်ဝိုင်များ သိုလှောင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း ကိစ္စ

၁။ Denko Petrochemical Management Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေရှိ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော သီလဝါဆိပ်ကမ်းဒေသရှိ အကွက်အမှတ် - ၁၇ ၊ ၁၈(ဘီ)ရှိ မြေ (၂၄.၇၁)ဧက တွင် B.O.T စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် ပို့ဆောင်ရေးဝန်ကြီးဌာန မှတစ်ဆင့် ရင်းနှီးမြှုပ်နှံသူ ဦးချစ်ခိုင်(အဘ-ဦးဘိုနီ)မှ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Denko Petrochemical Management Co., Ltd. တို့ အကြား ချုပ်ဆိုထားသည့် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း စာချုပ် နှင့် ပဋိညာဉ်စာချုပ် (မူကြမ်း) တို့ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဆိပ်ခံတံတား တည်ဆောက်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေး ကာလ)မှာ (၂)နှစ် ဖြစ်ပါသည်။ (ပဋိညာဉ်စာချုပ်အပိုဒ် ၈-ခ)

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၃၀)ဖြစ်ပြီး လုပ်ငန်းသက်တမ်း ကာလကို တည်ဆောက်ရေးကာလ စေ့ရောက်သည့်နေ့ (သို့မဟုတ်) တရားဝင် ဖွင့်လှစ်ခြင်း Grand Opening)ပြုလုပ်သည့်နေ့၊ ထိုနှစ်ရပ်အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်မည်ဖြစ်ပါသည်။ (ပဋိညာဉ်စာချုပ်အပိုဒ် ၁၄)

(ဂ) မြေ အသုံးချမှု ပရီမီယံကြေးအဖြစ် မြေ တစ်ဧကလျှင် ငွေကျပ် (၁၅၀)သိန်းနှုန်းဖြင့် စုစုပေါင်း ငွေ ကျပ်(၃၇၀,၆၅၀,၀၀၀) ကို လုပ်ငန်း လုပ်ခွင့်ရသူက စာချုပ် လက်မှတ် ရေးထိုးပြီး (၁)လအတွင်း ကျပ် (၁၈၅,၃၂၅,၀၀၀)ကို ပထမအရစ်အဖြစ် လည်းကောင်း၊

စာချုပ် လက်မှတ်ရေးထိုးပြီး (၁၂)လအတွင်း ကျပ် (၁၈၅,၃၂၅,၀၀၀)ကို ဒုတိယအရစ် အဖြစ် လည်းကောင်း ပေးသွင်းရမည်ဖြစ်ပါသည်။ (မြေငှား စာချုပ်အပိုဒ်၁-က)

(ဃ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စက်သုံးဆီ တင်/ချ ကွန်ကရစ် ဆိပ်ခံ တံတားနှင့် အထောက်အကူပြု အဆောက်အအုံများကို တည်ဆောက်ပြီးသည်နှင့် လုပ်ငန်းများ လုပ်ကိုင်ခွင့်အတွက် အောက်ဖော်ပြပါ နှုန်းထားများအတိုင်း လစဉ် မြေငှားရမ်းခအဖြစ် ငွေကျပ် (၁၅,၀၄၃,၂၄၃) ကို လစဉ် အင်္ဂလိပ် လဆန်း (၇)ရက် မတိုင်မီ လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်သို့ ပေးသွင်းရမည် ဖြစ်ပါသည်- (မြေငှားစာချုပ်အပိုဒ် ၁-ခ)

| | | ကျပ် |
|---|---|---|
| (၁) | စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား အတွက်<br>မြေငှားရမ်းခ (၃.၁၂ ဧက x ၅၄၀,၅၄၀.၅၄ ကျပ်) | ၁,၆၈၆,၄၈၆ |
| (၂) | ကျောထောက် နောက်ခံမြေ နေရာအတွက်<br>မြေငှားရမ်းခ (၂၄.၇၁ ဧက x ၅၄၀,၅၄၀.၅၄ ကျပ်) | ၁၃,၃၅၆,၇၅၇ |
| | **စုစုပေါင်း** | ၁၅,၀၄၃,၂၄၃ |

(င) ပေးဆောင်ရမည့် မြေငှားရမ်းခကို ဆိပ်ကမ်းလုပ်ငန်းများ စတင်ဆောင်ရွက်ရန် လျာ ထားသည့်နေ့မှ စတင် ပေးချေရမည် ဖြစ်ပါသည်။ (မြေငှားစာချုပ် အပိုဒ်၁-ခ)

(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများ ထားရှိ ဆောင်ရွက်ရမည်။ (ပဋိညာဉ်စာချုပ်အပိုဒ် -၂၂)

(ဆ) ဆိပ်ကမ်း အခွန်အခများကို ၁၉၉၈ ခုနှစ်၊ မတ်လ(၃၁)ရက်နေ့တွင် ထုတ်ပြန်ခဲ့သော မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ အခွန်အခနှုန်းထား ဇယားတွင် ပြဋ္ဌာန်းထားသည့် လက်ရှိ နှုန်းထားအတိုင်း ကောက်ခံရန်၊ ဆိပ်ကမ်း အခွန်အခ အားလုံးကို လိုအပ်ချိန် တွင် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်က ပြင်ဆင်သတ်မှတ်သည့်အတိုင်း လိုက်နာရမည် ဖြစ်ပါသည်။ (ပဋိညာဉ်စာချုပ်အပိုဒ် ၁၂-ဃ)

(ဇ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှု အတွက် အောက်ပါ အတိုင်း တာဝန်ယူဆောင်ရွက်ရမည်-(ပဋိညာဉ်စာချုပ်အပိုဒ် ၁၃)

(၁) လုပ်ငန်း စီမံကိန်း နယ်မြေနှင့် ၎င်းနယ်မြေ တစ်ဝိုက်တွင် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး၊

(၂) လေထု၊ ရေထုနှင့် မြေထုများ၊ ညစ်ညမ်းမှုနှင့်သဘာဝပတ်ဝန်း ကျင်အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရေး၊

(၃) လုပ်ငန်း စီမံကိန်း နေရာအား သဘာဝ ပတ်ဝန်းကျင်နှင့် လိုက်လျော ညီထွေဖြစ်အောင် ထိန်းသိမ်းနိုင်ရန်၊ ရေဆိုးနှင့် စွန့်ပစ်ပစ္စည်းများ ထိန်းသိမ်းသည့် စက်ကိရိယာများ တပ်ဆင်မှု အပါအဝင် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးအတွက် လိုအပ်သော အစီအမံများကို ချမှတ် ဆောင်ရွက်ရမည် ဖြစ်ပါသည်။

(ဈ) စာချုပ်သက်တမ်း တိုးမြှင့်လိုပါက စာချုပ် သက်တမ်း မကုန်ဆုံးမီ (၆)လ အတွင်း နှစ်ဖက်ညှိနှိုင်း သဘောတူညီမည့် သက်တမ်း တိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း စည်းကမ်းနှုန်းထားများ နှင့်အညီ သက်တမ်း တိုးမြှင့်ရမည် ဖြစ်ပါသည်။ (ပဋိညာဉ် စာချုပ် အပိုဒ် ၂၀)

(ည) စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်း တာဝန်များကို ပဋိညာဉ် စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက် သဘောတူညီမှသာ ခွင့်ပြု လွှဲအပ်မှု စာချုပ်စာတမ်း ပြုလုပ်၍ လွှဲအပ်ရမည်ဖြစ်ပါသည်။(ပဋိညာဉ်စာချုပ် အပိုဒ် ၂၁)

(ဋ) စာချုပ် သက်တမ်း ကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် တပ်ဆင်ထားသော စက်ကရိယာများ အပါအဝင် ဆောက်လုပ်ထားသည့် အဆောက်အဦများကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်သို့ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။ (မြေငှားစာချုပ် အပိုဒ် -၂၁)

၃။ အဆိုပြုကုမ္ပဏီမှ ကျောထောက်နောက်ခံမြေပေါ်တွင် ဂါလံ ၁.၉၈ သန်းဆန့် သိုလှောင်ကန် (၅)လုံး၊ ဂါလံ ၁.၃၂ သန်းဆန့် ဆီသိုလှောင်ကန်(၅)လုံးတို့နှင့် အဆောက်အဦများအား ကျပ် သန်း ၂၉၃၁၅.၂၀ ခန့်၊ အမေရိကန်ဒေါ်လာ ၁၆.၄၆၂ သန်းတို့ဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း ပို့ဆောင်ရေးဝန်ကြီးဌာန မှတစ်ဆင့် တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ Phase-1 ၊ Phase-2 နှင့် Phase-3 စုစုပေါင်း အမေရိကန်ဒေါ်လာ(၂၀.၈၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၆၁၀၃၇.၁၄) သန်း ဖြစ်ပါသည်။ Phase-1 တွင် စက်သုံးဆီ သိုလှောင်ကန်(၄)လုံးနှင့် အဆောက်အဦများ ဆောက်လုပ်ခြင်း၊ Phase-2 တွင် စက်သုံးဆီ သိုလှောင်ကန်(၂)လုံး တည်ဆောက်ခြင်း၊ ဆိပ်ခံတံတား(၁)စင်းနှင့် ဆက်စပ် လုပ်ငန်းများ တည်ဆောက်ခြင်း၊ Phase-3 တွင် စက်သုံးဆီ သိုလှောင်ကန်(၄)လုံး တည်ဆောက်ခြင်း တို့ကို ဆောင်ရွက်ပြီး Phase-1 တွင် ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ၊ စက်ပစ္စည်း ကိရိယာများ၊ အဆောက်အဦများ တည်ဆောက်ခြင်းတို့အတွက် အမေရိကန်ဒေါ်လာ (၂၀.၈၀) သန်းဖိုးကို ပြည်ပမှ

ဈေးငွေဖြင့် ဝယ်ယူမည်ဖြစ်ပြီး ပြည်ပမှ စုစုပေါင်း အမေရိကန်ဒေါ်လာ (၃၆.၄၆၂) သန်း တန်ဖိုးရှိ ပစ္စည်းများ ဝယ်ယူမည် ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | Phase-1 | Phase-2 | Phase-3 | စုစုပေါင်း |
|---|---|---|---|---|---|
| (က) | ငွေသား | ကျပ် ၉၉၃၁.၂၆ သန်း (US$ ၀.၂၃ သန်း အပါအဝင်) | ကျပ် ၅၃၇၈.၇၆ သန်း (US$ ၁.၀၈ သန်း အပါအဝင်) | ကျပ် ၉၀၀၁.၅၈ သန်း (US$ ၀.၁၆ သန်း အပါအဝင်) | ကျပ် ၂၄၃၁၁.၆၀ သန်း (US$ ၁.၄၇ သန်း အပါအဝင်) |
| (ခ) | စက်ပစ္စည်း ကိရိယာများ | ကျပ် ၁၉၈၈၉.၈၀သန်း (US$ ၂၀.၈၀ သန်း အပါအဝင်) | ကျပ် ၃၇၉၁.၄၃ သန်း (US$ ၄.၀၄ သန်း အပါအဝင်) | ကျပ် ၇၂၄၃.၅၅ သန်း (US$ ၇.၇၉ သန်း အပါအဝင်) | ကျပ် ၃၀၉၂၄.၇၈ သန်း(US$ ၃၂.၆၃ သန်း) |
| (ဂ) | အဆောက်အဦ ဆောက်လုပ်ခြင်း | ကျပ် ၁၆၀၂.၇၈ သန်း (US$ ၀.၅၃ သန်း အပါအဝင်) | - | - | ကျပ် ၁၆၀၂.၇၈ သန်း (US$ ၀.၅၃ သန်း အပါအဝင်) |
| (ဃ) | ဆိပ်ခံတံတား နှင့် ဆက်စပ် လုပ်ငန်းများ ဆောက်လုပ်ခြင်း | | ကျပ် ၄၀၇၁.၈၃ သန်း (US$ ၁.၆၇ သန်း အပါအဝင်) | - | ကျပ် ၄၀၇၁.၈၃ သန်း (US$ ၁.၆၇ သန်း အပါအဝင်) |
| (င) | ရုံးလုပ်ငန်းသုံး ပစ္စည်းများ | ကျပ် ၁၂၆.၁၅ သန်း (US$ ၀.၁၅ သန်း အပါအဝင်) | - | - | ကျပ် ၁၂၆.၁၅ သန်း (US$ ၀.၁၅ သန်း ) |
| | **စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၃၁၅၄၉.၉၉ သန်း (US$ ၂၀.၇၁ သန်း အပါအဝင်)** | **ကျပ် ၁၃၂၄၂.၀၂ သန်း (US$ ၆.၇၉ သန်း အပါ အဝင်)** | **ကျပ် ၁၆၂၄၅.၁၃ သန်း (US$ ၇.၉၅ သန်း အပါအဝင်)** | **ကျပ် ၆၁၀၃၇.၁၄ သန်း(US$ ၃၆.၄၆ သန်း အပါအဝင်)** |

၅။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၁၉၃) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်(၈၀၀၀၀)ဖြစ်ပါသည်။

၆။ အဆိုပြု လုပ်ငန်းတွင် ဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းတို့မှ ဝင်ငွေ ရရှိမည် ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ ပုံမှန်နှစ် (၇)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ဝန်ဆောင်နိုင်မှု (berth/ Month) | ဝန်ဆောင်မှုနှုန်း | | တစ်နှစ် ဝန်ဆောင်မှုနှုန်း | |
|---|---|---|---|---|---|---|
| | | | US$ | ကျပ် | US$(သန်း) | ကျပ်(သန်း) |
| (က) | Berthing Charges (Sea going) | ၁၄ | ၂၉၀.၀၀ | | ၀.၀၅ | |

| စဥ် | အမျိုးအမည် | ဝန်ဆောင်နိုင်မှု (berth/ Month) | ဝန်ဆောင်မှုနှုန်း | | တစ်နှစ် ဝန်ဆောင်မှုနှုန်း | |
|---|---|---|---|---|---|---|
| | | | US$ | ကျပ် | US$(သန်း) | ကျပ်(သန်း) |
| (ခ) | Berthing Charges (Inland) | ၂၁၃.၆၀ (တစ်လလျှင် (၂) ရက် ဝန်ဆောင်မှု ပေးနိုင်မည်ဖြစ်ပါသည်။ | | ၁၂၅.၀၀ | | ၀.၀၅ |
| (ဂ) | Stevedoring Charges (Sea going) | ၈၉၀၀ (tons) (တစ်လလျှင် သင်္ဘော(၆)စီး ဝန်ဆောင်မှု ပေးနိုင်မည် ဖြစ်ပါသည်။ | ၂.၀၀ | | ၁.၂၈ | |
| (ဃ) | Stevedoring Charges (Inland) | ၈၉၀၀ (tons) | | ၃၅.၀၀ | | ၁၁.၂၁ |
| (င) | Wharfage Charges (Sea going) | ၈၉၀၀ (tons) (တစ်လလျှင် သင်္ဘော(၆)စီး ဝန်ဆောင်မှု ပေးနိုင်မည် ဖြစ်ပါသည်။ | | ၂၀.၀၀ | | ၁၂.၈၂ |
| (စ) | Wharfage Charges (Inland) | ၈၉၀၀ (tons) | | ၂၀.၀၀ | | ၆.၄၁ |
| (ဆ) | Dirty Cargo Charges (Sea going) | ၁၁ (shift) (တစ်လ လျှင် ရက်ပေါင်း(၆) ရက် သင်္ဘော ဆိုက်ကပ်၍ ဝန်ဆောင်မှု ပေးနိုင်မည် ဖြစ်ပါသည်။ | ၁၅.၀၀ | | ၀.၀၁ | |

| စဉ် | အမျိုးအမည် | ဝန်ဆောင်နိုင်မှု (berth/ Month) | ဝန်ဆောင်မှုနှုန်း | | တစ်နှစ် ဝန်ဆောင်မှုနှုန်း | |
|---|---|---|---|---|---|---|
| | | | US$ | ကျပ် | US$(သန်း) | ကျပ်(သန်း) |
| (ဓ) | Dirty Cargo Charges (Inland) | ၁၁ (shift) (တစ်လလျှင် သင်္ဘော(၈)စီး ဝန်ဆောင်မှု ပေးနိုင်မည် ဖြစ်ပါသည်။ | | ၈၈.၀၀ | | ၀.၀၉ |
| (ဈ) | Mooring Charges (Sea going) | ၁၁ (gangs) (တစ်လလျှင် သင်္ဘော(၆)စီး ဝန်ဆောင်မှု ပေးနိုင်မည် ဖြစ်ပါသည်။ | ၁၈၀.၀၀ | | ၀.၁၄ | |
| (ည) | Mooring Charges (Inland) | ၁၁ (gangs) (တစ်လလျှင် သင်္ဘော(၈)စီး ဝန်ဆောင်မှု ပေးနိုင်မည် ဖြစ်ပါသည်။ | | ၁၀၆၀.၀၀ | | ၁.၁၂ |
| (ဋ) | Other Charges | ၈၉၀၀ (tons) (တစ်လလျှင် သင်္ဘော(၆)စီး ဝန်ဆောင်မှု ပေးနိုင်မည်ဖြစ်ပါ သည်။ | ၀.၅၀ | | ၀.၃၂ | |

| စဥ် | အမျိုးအမည် | ဝန်ဆောင်နိုင်မှု (berth/ Month) | ဝန်ဆောင်မှုနှုန်း | | တစ်နှစ် ဝန်ဆောင်မှုနှုန်း | |
|---|---|---|---|---|---|---|
| | | | US$ | ကျပ် | US$(သန်း) | ကျပ်(သန်း) |
| (၄) | Storage Charges | ၂၆၃ (gal) ၈၉၀၀ (tons) (တစ်လလျှင် သဘော်(၆)စီး ဝန်ဆောင်မှု ပေး နိုင်မည်ဖြစ်ပါ သည်။ | | ၃၀.၀၀ | | ၅၀၅၅.၉၁ |
| (၃) | Delivery Charges | ၂၆၃(gal) ၈၉၀၀ (tons) (တစ်လလျှင် သဘော်(၆)စီး ဝန်ဆောင်မှု ပေး နိုင်မည်ဖြစ်ပါ သည်။ | | ၅၀.၀၀ | | ၈၄၂၆.၅၂ |
| | | | | စုစုပေါင်း | ၁.၈၁ | ၁၃၅၁၄.၁၄ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၇ နှစ်မြောက်) တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ= ၈၇၀ ကျပ်

| | ကျပ်/သန်း | US$/သန်း | စုစုပေါင်း(ကျပ်/သန်း) |
|---|---|---|---|
| (က) ဝင်ငွေ | ၁၃၅၁၄.၀၀ | ၁၈၀၅.၀၀ | ၁၅၀၈၄.၀၀ |
| (ခ) အသုံးစရိတ် | ၄၄၈၂.၀၀ | - | ၇၁၃၃.၀၀ |
| (ဂ) အသားတင်အမြတ် | ၉၀၃၂.၀၀ | ၂.၂၄၇ | ၇၉၅၂.၀၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၇ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၂၆၅၁.၀၀)သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၇)နှစ် (၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၄.၅၈) ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ စွမ်းအင်ဝန်ကြီးဌာနနှင့် သတ္တုတွင်း ဝန်ကြီးဌာန တို့သို့ သဘောထား တောင်းခံခဲ့ရာ အောက်ဖော်ပြပါ အချက်များဖြင့် သဘောထားများ ပြန်ကြားလာပါသည်-

**(က) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(၂) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(၃) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက ပြည်တွင်း လုပ်သားအင်အား (၁၉၃)ဦး အလုပ်အကိုင် ရရှိစေမည်ဖြစ်သဖြင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊

(၄) အဆိုပြု မြေနေရာအား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံမှ တစ်လလျှင် မြေငှားရမ်းခ ကျပ် (၁၅,၀၄၃,၂၄၃)ဖြင့် နှစ်(၃၀) ငှားရမ်း အသုံးပြုမည်ဖြစ်သဖြင့် မြေနေရာ သုံးစွဲခြင်းအတွက် အဆင်ပြေမှု ရှိပါကြောင်း၊

**(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) စက်သုံးဆီများသည် မီးလောင်လွယ်ပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်စေနိုင် သဖြင့် မတော်တဆ မီးလောင်ကျွမ်းမှု မဖြစ်ပေါ်စေရန်နှင့် ဖြစ်ပေါ်ပါက ကြီးမား သော လောင်စာဆီ သိုလှောင်ကန်များ ပြင်းထန်စွာ ပေါက်ကွဲနိုင်သဖြင့် ပတ်ဝန်း ကျင် ထိခိုက်မှု မဖြစ်ပေါ်စေရန် တည်ဆောက်အသုံးပြုမည့် အစီအမံများ၊ ဆီတင် ရေယာဉ်များ၊ ဆီသိုလှောင်ကန်များ မတော်တဆ ဆီယိုဖိတ်မှုကြောင့် မြစ်ကြောင်း နှင့် မြေပြင် ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရန် နှင့် စက်သုံးဆီ သိုလှောင်ကန်များမှ ထွက်ပေါ်လာမည့် အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင် လေထုညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်မည့် အစီအစဉ်များ ရေးဆွဲချမှတ်ရန်၊

(၂) တည်ဆောက်ရေးကာလအတွင်း ထွက်ရှိမည့် အမှိုက်နှင့် စွန့်ပစ်ပစ္စည်းများကို သတ်မှတ်စည်းမျဉ်းစည်းကမ်းအတိုင်း စနစ်တကျ စွန့်ပစ်ရန်၊

(၃) ဆီတင် ရေယာဉ်များမှ ဆီသိုလှောင်ကန်များသို့ ဆီဖြည့်သွင်းခြင်း၊ ဆီသိုလှောင် ကန်များမှ မြစ်ကြောင်း(သို့)ကုန်းကြောင်းသို့ ဆီဖြန့်ဖြူးရောင်းချခြင်း စသည့် လုပ်ငန်းများ ဆောင်ရွက်ရာတွင် Waste Water Recovery System ထားရှိ ဆောင်ရွက်သွားရန်၊ နိုင်ငံတကာ စံချိန်စံညွှန်းများနှင့်အညီ အညစ်အကြေး စွန့်

ထုတ်ရေး၊ စွန့်ပစ် စက်သုံးဆီများကို ပြန်လည် သန့်စင်စေနိုင်မည့် နည်းလမ်းများ အသုံးပြုပြီး စွန့်ထုတ်သည့် အစီ အမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(၄) ပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ စိုက်ပျိုးရန်၊

(၅) အဆိုပြု စီမံကိန်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မရှိစေ ရေးနှင့် ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA)နှင့် လူမှုရေး ထိခိုက်မှု ဆန်းစစ်ခြင်း( Social Impact Assessment - SIA)လုပ်ငန်းများ ဆောင်ရွက်၍ အစီရင်ခံစာ တင်ပြပြီးမှ စိစစ်ခွင့်ပြုပါရန်၊

(၆) အထက်ပါ ဆန်းစစ်မှု ရလာဒ်များကို အခြေခံ၍ စောင့်ကြပ်ကြည့်ရှု စစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်းများ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့နည်းစေမည့် လုပ်ငန်းများနှင့် ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ၊ တာဝန်များ အကောင်အထည်ဖော်မည့် လုပ်ငန်းအဖွဲ့ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံ ခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan-EMP)ရေးဆွဲ တင်ပြရန် နှင့် EMP အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၇) ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများအပေါ် ထိုက်သင့်သော ငွေကြေးပေးဆောင်စေခြင်း (Payment for Environmental Services-PES) အစီအစဉ်များလည်း ထည့်သွင်းဆောင်ရွက်ပါရန်၊

(၈) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေနှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၉) စီမံကိန်းလုပ်ငန်း နှင့်စပ်လျဥ်း၍ ဒေသခံပြည်သူများ သိရှိနားလည်စေရန် ရှင်းလင်း ဆွေးနွေးပြီး သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံ လူထု၏ အကြံပြုချက်နှင့် သဘောထားများ ရယူဆောင်ရွက်ရန်နှင့် ၎င်းတို့၏ လူမှုဖွံ့ဖြိုးရေး အစီအမံများ ထည့်သွင်းဆောင်ရွက်ပါရန်၊

**( ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ EIA နှင့် SIA Report အား ခွင့်ပြုမိန့်ရရှိပြီးသော လုပ်ငန်းတူ ကုမ္ပဏီများနှင့်အတူ National Engineering and Planning Service Co., Ltd. အဖွဲ့အစည်းထံ အပ်နှံပြီး Draft Final Report အား တင်ပြထားပါကြောင်း တင်ပြထားပါသည်။)**

(ဂ) **စွမ်းအင်ဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁)Denko Petrochemical Management Co., Ltd. မှ တင်ပြလာသည့် အဆိုပြုချက်ပါ ဝန်ဆောင်မှု နှုန်းထားများသည် ဆီလျော်မှု ရှိပါကြောင်း၊

(၂)ပြည်ပမှ တင်သွင်းလာမည့် ကုန်ချော(စက်သုံးဆီ)ပမာဏ ဆီလျော်မှု ရှိ-မရှိ နှင့် စပ်လျဉ်း၍ ပထမအဆင့် စီမံကိန်းအနေဖြင့် ဂါလန်(၃.၃)သန်းဆံ့ ဒီဇယ်ဆီ သိုလှောင်ကန် ၁ လုံး၊ ဂါလန်(၁.၉၈)သန်းဆံ့ ဒီဇယ်ဆီ သိုလှောင်ကန် ၁ လုံး၊ ဂါလန် (၁.၉၈)သန်းဆံ့ ဓါတ်ဆီသိုလှောင်ကန် ၂ လုံး၊ ဒုတိယအဆင့် စီမံကိန်းအနေဖြင့် ဂါလန်(၃.၃)သန်းဆံ့ ဒီဇယ်ဆီ သိုလှောင်ကန် ၂ လုံး၊ တတိယအဆင့် စီမံကိန်း အနေဖြင့် ဂါလန်(၃.၃)သန်းဆံ့ ဒီဇယ်ဆီ သိုလှောင်ကန် ၂ လုံး၊ ဂါလန်(၁.၉၈) သန်းဆံ့ ဓါတ်ဆီ သိုလှောင်ကန် ၂ လုံးတို့ကို တည်ဆောက်၍ ဆောင်ရွက်မည်ဟု ခန့်မှန်း တွက်ချက် ထားပါသဖြင့် မြန်မာနိုင်ငံတစ်နိုင်ငံလုံး၏ လိုအပ်ချက် အတွင်း ဖြစ်သော် လည်း အခြားသော စက်သုံးဆီ သိုလှောင်တင်သွင်းမှု လုပ်ငန်းလုပ်ကိုင်မှုနှင့် ဆက်စပ်သုံးသပ်ရမည်ဖြစ်သဖြင့် အလားတူ စက်သုံးဆီ သိုလှောင် ဝန်ဆောင်မှု လုပ်ငန်း မည်မျှ ခွင့်ပြုမည်ကို သိရှိရန် လိုအပ်ပါကြောင်း၊

**( ပို့ဆောင်ရေး ဝန်ကြီးဌာနမှ (၁၂-၃-၂၀၁၃) ရက်စွဲပါ စာဖြင့် မူလပထမ တင်ပြ ခဲ့စဉ်က ဆီသိုလှောင်ကန် အရွယ်အစားမှာ ကြီးမားနေသဖြင့် ပြင်ဆင်မည့် သိုလှောင်ကန် အရွယ်အစား၊ နိုင်ငံခြားမှ တင်သွင်းမည့် ပစ္စည်းစာရင်းနှင့် ရင်းနှီး မြှုပ်နှံမည့် အချိုးအစားကို ပြင်ဆင်တွက်ချက်ပြီး ပို့ဆောင်ရေးဝန်ကြီးဌာန မှတစ်ဆင့် (၃၀-၇-၂၀၁၃) ရက်စွဲပါ စာဖြင့် ထပ်မံ တင်ပြခြင်း ဖြစ်ပါသည်။)**

(ဃ) **သတ္တုတွင်းဝန်ကြီးဌာန (နောက်ဆက်တွဲ-ဃ)**

(၁)Denko Petrochemical Management Co., Ltd. မှ စက်သုံးဆီ မြေပေါ် သိုလှောင်ကန်(၁၀)လုံး တည်ဆောက် သိုလှောင်သွား မည်ဖြစ်ရာ မြေပေါ်သိုလှောင် ခွင့် "L" လိုင်စင်ပါ ကန့်သတ်ချက်များအရ ဂါလန်(၁) သိန်း အထက် သိုလှောင်ကန် များ ဖြစ်သည့်အတွက် သိုလှောင်ကန် တစ်ကန်နှင့် တစ်ကန်ကြားတွင် ဘေးကင်းမှု အကွာအဝေး (၁၀၀)ပေ ခွာ၍ တည်ဆောက်ရန် နှင့် ပေ(၁၀၀) ထက် နီးကပ်စွာ တည်ဆောက်မည်ဆိုပါက သိုလှောင်ကန် နှစ်ကန်ကြား တွင် မီးတားနံရံ(Fire Screen Wall) အား ပို၍ အမြင့်ရှိသည့် သိုလှောင်ကန်၏ အမြင့်အတိုင်း ကာရံပေးရန် လိုအပ်ပါကြောင်း၊

(၂) Denko Petrochemical Management Co., Ltd. ၏ စက်သုံးဆီ မြေပေါ် သိုလှောင်ကန် တည်ဆောက်ရာတွင် အပိုဒ်(က)ပါ "L"လိုင်စင် ကန့်သတ်ချက်များ အတိုင်း တည်ဆောက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း၊

( ကုမ္ပဏီမှ သတ္တုတွင်းဝန်ကြီးဌာနမှ သတ်မှတ်ထားသော စည်းမျဉ်း စည်းကမ်းများ နှင့်အညီ ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး သိုလှောင်ခွင့် လိုင်စင် ရရှိထား ပြီး ဖြစ်ပါကြောင်း၊ ချမှတ်ထားသော စည်းမျဉ်းစည်းကမ်းများအတိုင်း လုပ်ကိုင် ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။)

၁၀။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် MFTB ၌ (၂၇-၂-၂၀၁၃) နေ့ရှိ ငွေလက်ကျန် US$(၁၃.၀၇)သန်း တင်ပြထားရာ သုံးစွဲရန် US$ (၃၆.၄၆)သန်း၏ ၃၅.၈၅ % ရှိကြောင်း စိစစ်ရပါသည်။ ကျပ်ငွေ အထောက်အထား အဖြစ် ကုမ္ပဏီ အမည်ဖြင့် Myanmar Apex Bank ၌ (၂၆-၂-၂၀၁၃) နေ့ရှိ ငွေလက်ကျန် ကျပ်(၁၅၆၂.၁၆) သန်း တင်ပြထားရာ ပထမအဆင့် စီမံကိန်းတွင် သုံးစွဲမည့် ကျပ်ငွေ (၃၁၅၄၉.၉၉)သန်း၏ ၄.၉၅ % ရှိကြောင်း စိစစ်ရပါသည်။

၁၁။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ လုပ်ငန်းခွင် သာယာရေး၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးနှင့် လုပ်သားများ သက်သာ ချောင်ချိရေး အစီအစဉ်များထားရှိဆောင်ရွက်ထားပါကြောင်း ဝန်ခံ ကတိပြု ထားပါသည်။

၁၂။ **စိစစ်တင်ပြချက်**

(က) စက်သုံးဆီ ဝန်ဆောင်မှုလုပ်ငန်းမှာ ပြည်ပမှ ကုန်ချော(စက်သုံးဆီ)များအား တင်သွင်း ပြီး ပြည်တွင်း၌ သိုလှောင်ကာ ဖြန့်ဖြူးရောင်းချခြင်းဖြစ်သဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၂၀(ဈ)နှင့် အကျုံးမဝင်ကြောင်း စိစစ်ရပါသည်။

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၂၀(က)အရ ဝင်ငွေခွန် ကင်းလွတ် ခွင့်ကိုလည်းကောင်း၊ ဆိပ်ခံတံတား တည်ဆောက်ခြင်းအတွက် ဥပဒေ ပုဒ်မ ၂၀(ဆ) ကိုလည်းကောင်း ခံစားခွင့် ရရှိမည်ဖြစ်ပါသည်။

၁၃။ သို့ဖြစ်ပါ၍ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မှ ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်း နယ်မြေ၊ သီလဝါ ဆိပ်ကမ်းဒေသ၊ အကွက် အမှတ် - ၁၇ ၊ ၁၈(ဘီ)ရှိ မြေ (၂၄.၇၁)ဧက တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်

ခွင့်ပြုပါရန် ပို့ဆောင်ရေး ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ